# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊မရက-၂/ အ-၀၀၉ /၂၀၁၇(၈၅၈)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် နိုဝင်ဘာလ ၂၄ ရက်

## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြသည့်အမှာစာ

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Soolog Coffee Company Limited မှ ကော်ဖီ စိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အတည်ပြုမိန့် တင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ Amaretto Company Limited မှ ၈၀%နှင့် မြန်မာနိုင်ငံမှ PSG Company Limited မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Soolog Coffee Company Limited တည်ထောင်ပြီး ဦးပိုင်အမှတ်-၁၅၇၊ ၁၆၃၊ ကွင်းအမှတ်-ပြင်/ဟိုခိုမြောက်၊ ဟိုခိုကျေးရွာအုပ်စု၊ နောင်ချိုမြို့နယ်၊ ကျောက်မဲခရိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်းရှိ မြေ(၆၉.၁၆)ဧကကို ငှားရမ်း၍ ကော်ဖီစိုက်ပျိုးထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အတည်ပြုချက် တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မြေပိုင်ရှင် PSG Company Limited နှင့် Soolog Coffee Company Limited တို့ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ်၊ မြေဆိုင်ရာ အထောက်အထားများ၊ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်း၊ နိုင်ငံကူးလက်မှတ်မိတ္တူတို့ကို တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းမှာ ၅၀နှစ်ဖြစ်ပြီး မြေဧရိယာ ၆၉.၁၆ဧကအား ငှားရမ်း၍ လုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ်မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၃၀၀၀ဖြစ်ပြီး တစ်ဧကလျှင်ပျမ်းမျှ အမေရိကန် ဒေါ်လာ ၄၃.၃၈ နှုန်း ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်ဖြစ်ပါသည်။ ပြင်ဆင်ရေးကာလ မှာ ၂နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၇၅၀,၀၀၀ ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ တဖက်ပါအတိုင်း ဖြစ်ပါသည်-

US$

| | | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| (က) | ငွေသား | - | ၆၀၀,၀၀၀ | ၆၀၀၀၀၀ |
| (ခ) | မြေငှားရမ်းခ | ၁၅၀,၀၀၀ | - | ၁၅၀,၀၀၀ |
| | စုစုပေါင်း | ၁၅၀,၀၀၀ | ၆၀၀,၀၀၀ | ၇၅၀,၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၂၇ဦး ခန့်ထားမည်ဖြစ်ပြီး ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ်၂၅၀,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသော ပစ္စည်းများကို ပြည်ပသို့ ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ဆဋ္ဌမမြောက်နှစ်) ထုတ်လုပ်မှုနှင့်ရောင်းချမှု ဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (kg) | ရောင်းချမည့် ဈေးနှုန်း (US$/ kg) |
|---|---|---|---|
| (က) | Coffee | ၄၀၀ | ၂.၂၂၂ |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **ရှမ်းပြည်နယ်အစိုးရအဖွဲ့ရုံးမှ** အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan- EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်း သဘောထားပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-ခ**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် PSG Company Limitedအမည်ဖြင့် CB Bankတွင် ၁၈-၇-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၇,၃၀၀,၀၀၀ ရှိကြောင်းနှင့် Amaretto Company Limited/ Kim Yong Han အမည်ဖြင့် ကိုရီးယားနိုင်ငံ IBK ဘဏ်တွင် ၂၂-၅-၂၀၁၇ ရက်စွဲဖြင့် KRW

၁၃၈,၀၉၈.၄၇၄၊ အမေရိကန်ဒေါ်လာ ၁၂၂,၄၈၂.၀၁ ရှိကြောင်း အထောက်အထားများအား တင်ပြထားပါသည်။

၁၀။ **စိစစ်တင်ပြချက်**

(က) လယ်ယာမြေလုပ်ကိုင်ခွင့်ပြု လက်မှတ်၊ ပုံစံ (၇) စည်းကမ်းချက်တွင် လယ်ယာမြေကို မူလ စိုက်ပျိုးလျက်ရှိသော ရာသီသီးနှံအမျိုးအစားမှ နှစ်ရှည်ပင်အမျိုးအစားသို့ ခွင့်ပြုချက် မရှိဘဲ ပြောင်းလဲစိုက်ပျိုးခြင်းမပြုရဟု ဖော်ပြထား၍ ခွင့်ပြုချက်ရရှိရေးအတွက် လယ်ယာမြေလုပ်ပိုင်ခွင့်ရရှိသူ PSG Company Limitedမှ မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာနသို့ အခြားသီးနှံ ပြောင်းလဲစိုက်ပျိုးခွင့် လျှောက်ထားသည့် စာအား တင်ပြထားပါသည်။

(ခ) ကုန်ကြမ်း မျိုးစေ့များအား ပြင်ဦးလွင်မြို့၊ မြန်မာ့ကော်ဖီခြံ၊ မြန်မာ့စိုက်ပျိုးရေးလုပ်ငန်း၊ စိုက်ပျိုးရေး မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ ဝယ်ယူမည်ဖြစ်ပါသည်။

(ဂ) အတည်ပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေးမြှင့်တင်မည့် ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးတိုး တက်မှုဇုန် ဇုန်(၂)တွင် ပါဝင်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Soolog Coffee Company Limited မှ ကော်ဖီစိုက်ပျိုးထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုချက် တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

MIC1 ၃၇၄ / ၁၁/၉

ရုံးတံဆိပ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပြည်နယ်အစိုးရအဖွဲ့
ရှမ်းပြည်နယ်

စာအမှတ်၊ ၁၀၈၀၇/ ၇ - ၂၁၆ / အစရ(ရှမ်း)
ရက် စွဲ ၊ ၂၀၁၇ခုနှစ်၊ စက်တင်ဘာလ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့တင်ပြခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက -၂ /အ-၀၀၉/၂၀၁၇(၆၂၆)

၁။ Soolog Coffee Company Limited မှ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ဟိုခိုကျေးရွာအုပ်စု၊ ကွင်းအမှတ်-ပြင်ံ/ဟိုခိုမြောက်၊ ဦးပိုင်အမှတ်-၁၅၇၊ ၁၆၃ ၊ ဧရိယာ(၆၉.၁၆)ဧကတွင် ကော်ဖီစိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာမှုအပေါ် ရှမ်းပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ခရိုင်စီမံခန့်ခွဲမှုကော်မတီမှ နောင်ချိုမြို့နယ်၊ ဟိုခိုကျေးရွာအုပ်စုသည် မြို့နှင့်အလှမ်းကွာဝေးခြင်း၊ လူနေကျဲပါးခြင်း၊ ပြင်ဦးလွင်-မိုးကုတ်လမ်းပေါ်တွင် တည်ရှိနေခြင်း၊ ပတ်ဝန်းကျင်တောင်သူများနှင့် ဒေသခံများမှ ကန့်ကွက်မှုမရှိခြင်းတို့ကြောင့် Soolog Coffee Company Limited မှ ကော်ဖီထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုမည်ဆိုပါက ဒေသခံပြည်သူလူထု၏ အလုပ်အကိုင်အခွင့်အလမ်းများ ရရှိစေနိုင်ခြင်း၊ ဘွဲ့ရနှင့် တက္ကသိုလ်ဝင်တန်းအောင်လူငယ်များ ပညာသင်ကြားရင်း အလုပ်လုပ်ကိုင်ခွင့်ရရှိစေနိုင်ခြင်း၊ လူနေမှုအဆင့်မြင့်မားလာနိုင်ခြင်း၊ ဒေသဖွံ့ဖြိုးမှုမြင့်တက်လာစေနိုင်ခြင်းတို့ကြောင့် ဒေသခံပြည်သူများ၏ ထောက်ခံတင်ပြခြင်းတို့အရ Soolog Coffee Company Limited မှ ကော်ဖီထုတ်လုပ်ရောင်းချခွင့်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြထားခြင်းနှင့်ပတ်သက်၍ ဒေသဖွံ့ဖြိုးစည်ပင်လာမည်ဖြစ်၍ ဥပဒေ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လျှောက်ထားဆောင်ရွက်သင့်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Soolog Coffee Company Limited မှ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ဟိုခိုကျေးရွာ အုပ်စု၊ ကွင်းအမှတ်-ပြင်/ဟိုခိုမြောက်၊ ဦးပိုင်အမှတ်-၁၅၇၊ ၁၆၃ ၊ ဧရိယာ(၆၉.၁၆)ဧကတွင် ကော်ဖီစိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် Soolog Coffee Company Limited မှ အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ ၅-၉-၂၀၁၇ ရက်တွင် ကျင်းပ

ပြုလုပ်သည့် ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ ပုံမှန်အစည်းအဝေး အမှတ်စဉ် (၁-၉/၂၀၁၇) ဆုံးဖြတ်ချက်အပိုဒ် ၅(ဓ)အရ ဒေသခံများ၏ လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိပါသဖြင့် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ နှင့်အညီ လုပ်ကိုင်ဆောင်ရွက် ခွင့်ပြုမည်ဆိုပါက ရှမ်းပြည်နယ်အစိုးရအဖွဲ့အနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

၈.၉.၁၇

ပြည်နယ်ဝန်ကြီးချုပ်(ကိုယ်စား)

( စိုင်းလုံကျော်၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး )

မိတ္တူကို

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ ကျောက်မဲမြို့

Soolog Coffee Company Limited

လက်ခံစာတွဲ

မျှော့စာတွဲ

**နောက်ဆက်တွဲ- ခ**

ရင်းနှီးမြှုပ်နှံမှုဦးစီးဌာန ဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့
စာအမှတ်
ရက်စွဲ
ရန်ကုန်မြို့

MICL 247
25/8

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊၀၀၁/ MIC(OSS) /၀၁(၁၆၀/ ၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဩဂုတ်လ ၂၅ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Soolog Coffee Company Limited မှ ကော်ဖီစိုက်ပျိုးခြင်းနှင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၈-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၀၉/၂၀၁၇ (၆၂၅)

၁။ Soolog Coffee Company Limited မှ ရှမ်းပြည်နယ်မြောက်ပိုင်း၊ ကျောက်မဲခရိုင်၊ နောင်ချိုမြို့နယ်၊ ဟိုခိုကျေးရွာအုပ်စု၊ ကွင်းအမှတ်- ပြင်/ဟိုခိုမြောက်၊ ဦးပိုင်အမှတ်- ၁၅၇၊ ၁၆၃ ရှိ မြေ ၆၉.၁၆ ဧက (၂,၇၉,၈၈၀ စတုရန်းမီတာ) တွင် ကော်ဖီစိုက်ပျိုးခြင်းနှင့်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ နည်းဥပဒေအပိုဒ်- ၇၁၊ ၇၂(က)အရအတည်ပြုလွှာလက်ခံခြင်း၊ ငြင်းပယ်ခြင်းနှင့်အတည်ပြုမိန့်ထုတ်ပေးနိုင်ရေးအတွက် စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါ စုံစမ်းမေးမြန်းလာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင်အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၅၀) ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် မြေ ၂,၇၉,၈၈၀ စတုရန်းမီတာပေါ်တွင် ၁၈x၃၆ ပေ၊ ၁၈x၄၈ ပေ၊ ၃၀x၃၅ ပေ၊ ၃၀x၂၅ ပေ ရှိ အဆောက်အဦ (၄) ဦးကို တည်ဆောက်၍ ကော်ဖီစိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ကော်ဖီစိုက်ပျိုးရန်အတွက် (၂၀၁၇-၂၀၁၈) ခုနှစ်တွင် ၁၀ ဧက၊ (၂၀၁၈-၂၀၁၉) ခုနှစ်တွင် ၂၀ ဧက၊ (၂၀၁၉-၂၀၂၀) ခုနှစ်တွင် ၃၀ ဧက၊ (၂၀၂၀-၂၀၂၁) ခုနှစ်တွင် ၄၀ ဧက၊ (၂၀၂၁-၂၀၂၂) ခုနှစ်တွင် ၅၀ ဧကနှင့် (၂၀၂၂-၂၀၂၃) ခုနှစ်တွင် ၆၅ ဧက စိုက်ပျိုးသွားမည် ဖြစ်ကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် တန် (၂၇) ကျော်မှ (၆) နှစ်အတွင်းတန် (၄၄) ကျော်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ပြီး ပြည်ပသို့ ၁၀၀% နှင့် တင်ပို့ရောင်းချသွားမည်ဖြစ်ကြောင်း၊

(င) မီးသေား ကြိုတင်ကာကွယ်ရေးစီမံချက်၊ အရေးပေါ် ဘေးအန္တရာယ်စီမံခန့်ခွဲရေး အစီအစဉ်၊ အရေးပေါ် ကယ်ဆယ်ရေးအစီအစဉ်၊ လုံခြုံရေးအစီအစဉ်နှင့် ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်များကို ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) လုပ်ငန်းမှ နှစ်စဉ်ရရှိလာမည့်အမြတ်ငွေ၏ (၂%) ခန့်ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် အသုံးပြုသွားမည်ဖြစ်ကြောင်း၊

(ဆ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပြီး လိုအပ်သော ပတ်ဝန်းကျင်ဆိုင်ရာ စီမံခန့်ခွဲမှုအစီအစဉ်များကို ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ အဆိုပြုလုပ်ငန်း တည်ဆောက်လည်ပတ်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Soolog Coffee Company Limited မှ ကော်ဖီစိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်း လုပ်ငန်းဆောင်ရွက်ရာ၌ ချုံများကိုခုတ်ထွင်၍ မီးရှို့ရှင်းလင်းရာတွင် စနစ်တကျဆောင်ရွက်ခြင်းမရှိပါက မြေဆီလွှာအရည်အသွေးကျဆင်းပြီး မီးခိုးများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု ဖြစ်စေနိုင်ခြင်း၊

(ခ) အဆိုပြု စိုက်ခင်းလုပ်ငန်းကို စနစ်တကျအောင်မြင်အောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက သစ်ပင် သစ်တောများ ပြုန်းတီးခြင်း၊ တောရိုင်းတိရိစ္ဆာန်တို့၏ နေထိုင်ကျက်စားရာနေရာများ ပျက်ဆီးဆုံးရှုံးခြင်းတို့ကြောင့် အပင်/သတ္တဝါတို့၏ ဂေဟဗေဒစနစ် ထိခိုက်ပျက်စီးပြီး ဇီဝမျိုးစုံ/မျိုးကွဲများ လျော့နည်းပျောက်ကွယ်နိုင်ခြင်း၊

(ဂ) စိုက်ခင်းအတွက် ဓာတုဓာတ်မြေဩဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ အလုပ်သမားများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊ မြေအောက်ရေများ ထုတ်ယူသုံးစွဲမှုကြောင့် မြေမျက်နှာပြင်ပြောင်းလဲမှု ဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Soolog Coffee Company Limited မှ ကော်ဖီစိုက်ပျိုးခြင်းနှင့် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်

များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် လုပ်ငန်းဆောင်ရွက်သည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါအချက်အလက်များနှင့်အညီ အစီရင်ခံ ရေးသားတင်ပြရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်းတင်ပြရန်၊

(ဃ) သက်ဆိုင်ရာပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

၂၅/၈/၁၅

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

၂၅၊၈၊၁၅

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရှမ်းပြည်နယ်
ရုံးလက်ခံ